ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

ခွင့်ပြုမိန့်

ခွင့်ပြုမိန့်အမှတ် ၂၃၆/၂၀၂၀ ၂၀၂၀ ပြည့်နှစ်၊ ဖေဖော်ဝါရီလ 24 ရက်

မြန်မာနိုင်ငံနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေ ဥပဒေပုဒ်မ ၂၅ ပုဒ်မခွဲ (ဂ) အရ ဤခွင့်ပြုမိန့်ကို ထုတ်ပေးလိုက်သည် -

(၁) ရင်းနှီးမြှုပ်နှံသူ/ ကမကထပြုသူအမည် ဦးနိုင်ထွန်း

(၂) နိုင်ငံသား မြန်မာ

(၃) နေရပ်လိပ်စာ အမှတ်-၃၊ ရတနာမွန်(၇)လမ်း၊ (၃)ရပ်ကွက်၊ လှိုင်မြို့နယ်၊ ရန်ကုန်မြို့

(၄) ပင်မအဖွဲ့အစည်းအမည်နှင့်လိပ်စာ မရှိ

(၅) ဖွဲ့စည်းရာအရပ် မြန်မာ

(၆) ရင်းနှီးမြှုပ်နှံသည့်လုပ်ငန်းအမျိုးအစား မော်တော်ယာဉ်အမျိုးမျိုး တပ်ဆင်ထုတ်လုပ်ရောင်းချခြင်းနှင့်ရောင်းချပြီးနောက်ပြုပြင်ထိန်းသိမ်းခြင်းလုပ်ငန်း

(၇) ရင်းနှီးမြှုပ်နှံသည့်အရပ်ဒေသ(များ) မြေကွက်အမှတ်- ၉/ခ၁၁၀/က၁၁၀/ခ၊ မြေတိုင်းရပ်ကွက်အမှတ်- ၅၃၈/က၊ ရွှေပြည်သာမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး

(၈) နိုင်ငံခြားမတည်ငွေရင်းပမာဏ မရှိ

(၉) နိုင်ငံခြားမတည်ငွေရင်းယူဆောင်လာရမည့်ကာလ မရှိ

(၁၀) စုစုပေါင်း မတည်ငွေရင်းပမာဏ(ကျပ်) ကျပ် ၃၃၁၅.၈၈၅ သန်း (အမေရိကန်ဒေါ်လာ ၀.၂၀၃ သန်း အပါအဝင် စုစုပေါင်း ကျပ် သုံးထောင်သုံးရာတစ်ဆယ့်ငါးသန်းနှင့် ရှစ်သိန်းရှစ်သောင်းငါးထောင်ခန့်)

(၁၁) တည်ဆောက်မှုကာလ ၁ နှစ်

(၁၂) ရင်းနှီးမြှုပ်နှံမှုခွင့်ပြုသည့်သက်တမ်း ၃၀ နှစ်

(၁၃) ရင်းနှီးမြှုပ်နှံမှုပုံစံ ရာခိုင်နှုန်းပြည့်မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှု

(၁၄) မြန်မာနိုင်ငံတွင်ဖွဲ့စည်းမည့်ကုမ္ပဏီအမည် MYANMAR SWM MOTOR COMPANY LIMITED

Thaung Tun

(သောင်းထွန်း)

ဥက္ကဋ္ဌ

၆

Form (3)

P000192

# THE REPUBLIC OF THE UNION OF MYANMAR

Myanmar Investment Commission

## PERMIT

Permit No. 236/2020 Dated 24 February 2020

This Permit is issued by the Myanmar Investment Commission according to the section 25, sub-section (c) of the Myanmar Investment Law-

(1) Name of Investor U NAING HTUN

(2) Citizenship MYANMAR

(3) Residence Address NO.3, YADARNAR MON 7th STREET, 3 WARD, HLAING TOWNSHIP,YANGON

(4) Name and Address of Principle Organization NIL

(5) Place of Incorporation MYANMAR

(6) Type of Business ASSEMBLING, MANUFACTURING, SALES OF MOTOR VEHICLES AND AFTERSALES SERVICE

(7) Place(s) at which investment is permitted PLOT NO.9/B, 10/A, 10/B, MYAY TAING BLOCK NO- 538/A, SHWE PYI THAR TOWNSHIP, YANGON REGION

(8) Amount of Foreign Capital NIL

(9) Period for Foreign Capital to be brought in NIL

(10) Total amount of capital (Kyat) KYAT 3315.885 MILLION (INCLUDING US$ 0.203 MILLION)

(11) Construction Period 1 YEAR

(12) Validity of investment permit 30 YEARS

(13) Form of investment WHOLLY MYANMAR OWNED

(14) Name of Company incorporated in Myanmar MYANMAR SWM MOTOR COMPANY LIMITED

Thaung Tun

(Thaung Tun)
Chairman

Myanmar Investment Commission

b

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

အမှတ်(၁)၊ သစ္စာလမ်း၊ရန်ကင်းမြို့နယ်၊ ရန်ကုန်မြို့

စာအမှတ်၊မရက- ၃/ ခ-၀၆၃/၂၀၂၀( ၀၆၂-၁ )
ရက်စွဲ၊ ၂၀၂၀ ပြည့်နှစ်  ဖေဖော်ဝါရီလ 24 ရက်

အကြောင်းအရာ။ **Myanmar SWM Motor Company Limited ၏ မော်တော်ယာဉ်အမျိုးမျိုးတပ်ဆင်ထုတ်လုပ်ရောင်းချခြင်းနှင့် ရောင်းချပြီးနောက် ပြုပြင်ထိန်းသိမ်းခြင်းလုပ်ငန်း အဆိုပြုချက်အပေါ် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ဆုံးဖြတ်ချက်**

ရည်ညွှန်းချက် ။ **Myanmar SWM Motor Company Limited ၏ ၂-၁-၂၀၂၀ ရက်စွဲပါစာ**

၁။ Myanmar SWM Motor Company Limited မှ မြေကွက်အမှတ်- ၉/ခ၊ ၁၀/က၊ ၁၀/ခ၊ မြေတိုင်းရပ်ကွက်အမှတ်- ၅၃၈/က၊ ရွှေပြည်သာမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးရှိ မြေဧရိယာ ၁.၆၅၁ဧက(၆၆၈၁.၃၆၈စတုရန်းမီတာ)တွင် မော်တော်ယာဉ်အမျိုးမျိုး တပ်ဆင်ထုတ်လုပ်ရောင်းချခြင်းနှင့် ရောင်းချပြီးနောက်ပြုပြင်ထိန်းသိမ်းခြင်းလုပ်ငန်းအား မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက်တင်ပြခြင်းအား ၂၀၂၀ ပြည့်နှစ် ဖေဖော်ဝါရီလ ၁၃ ရက်နေ့တွင် ကျင်းပပြုလုပ်သော မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၃/၂၀၂၀) ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ရာ ခွင့်ပြုကြောင်း ဆုံးဖြတ်ခဲ့ပါသည်။ အဆိုပါ ဆုံးဖြတ်ချက်အရ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ဥပဒေ၊ နည်းဥပဒေကို ကျင့်သုံးလျက် Myanmar SWM Motor Company Limited အား မော်တော်ယာဉ် အမျိုးမျိုး တပ်ဆင်ထုတ်လုပ်ရောင်းချခြင်းနှင့်ရောင်းချပြီးနောက် ပြုပြင်ထိန်းသိမ်းခြင်းလုပ်ငန်းဆောင်ရွက်နိုင်ရန်အတွက် ခွင့်ပြုမိန့်အမှတ်၊၂၃၆/၂၀၂၀ ကိုထုတ်ပေးလိုက်သည်။

၂။ Myanmar SWM Motor Company Limited အနေဖြင့် ဤခွင့်ပြုမိန့်အရ လုပ်ငန်းဆောင်ရွက်ရာတွင် အောက်ပါအချက်များကို လိုက်နာဆောင်ရွက်ရမည်-

(က) Myanmar SWM Motor Company Limited အနေဖြင့် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှုလုပ်ငန်း ဆောင်ရွက်ရာတွင် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုဥပဒေ အခန်း (၁၈)၊ ပုဒ်မ ၇၅၊ ၇၇၊ ၇၈ အရ ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ပြဋ္ဌာန်းထားသည့်အချက်များနှင့်အညီခံစားခွင့်ပြုနိုင်ရန်လျှောက်ထားနိုင်သည်။

(ခ) Myanmar SWM Motor Company Limited သည် ဤခွင့်ပြုမိန့်အရ **ထုတ်လုပ်မှုရည်မှန်းချက်များကိုအကောင်းဆုံး** အကောင်အထည်ဖော်ဆောင်ရွက်ရမည်။



6

(ဂ) Myanmar SWM Motor Company Limited အနေဖြင့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ဥပဒေ ပုဒ်မ ၆၅ နှင့် နည်းဥပဒေအခန်း (၂၀) တို့တွင်ပြဋ္ဌာန်းထားသည့် ရင်းနှီးမြှုပ်နှံသူ၏တာဝန်ဝတ္တရားများနှင့်အညီ လိုက်နာဆောင်ရွက်ရမည်။

(ဃ) Myanmar SWM Motor Company Limited သည် လုပ်ငန်းဆောင်ရွက်ရာတွင် သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာနမှ ပြဋ္ဌာန်းထုတ်ပြန်ထားပြီးဖြစ်သည့် ပတ်ဝန်းကျင် ထိန်းသိမ်းရေး ဥပဒေ၊ နည်းဥပဒေ၊ ပတ်ဝန်းကျင် ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်း၊ အမျိုးသားပတ်ဝန်းကျင်ဆိုင်ရာ အရည်အသွေး (ထုတ်လွှတ်မှု) လမ်းညွှန်ချက်များတွင် ဖော်ပြပါရှိသည့် လိုက်နာဆောင်ရွက်ရမည့်အချက်များ၊ လုပ်ထုံးလုပ်နည်းများ၊ လမ်းညွှန်ချက်များနှင့်အညီ လိုက်နာဆောင်ရွက်ရမည်။

(င) Myanmar SWM Motor Company Limited သည် ရင်းနှီးမြှုပ်နှံမှုအား လုပ်ငန်းသက်တမ်းကာလအတွင်း အခြားပုဂ္ဂိုလ်တစ်ဦးဦး သို့ တစ်ဆင့်ငှားရမ်းခြင်း၊ ပေါင်နှံခြင်း၊ အစုရှယ်ယာလွှဲပြောင်းခြင်းနှင့် လုပ်ငန်းလွှဲပြောင်းခြင်းတို့ကို မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၇၂ နှင့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု နည်းဥပဒေ ၁၉၁ အရ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြရမည်။

(စ) Myanmar SWM Motor Company Limited သည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု နည်းဥပဒေ ၁၉၆ အရ နှစ်စဉ်ဘဏ္ဍာရေးနှစ် ကုန်ဆုံးပြီးနောက် သုံးလအတွင်း သတ်မှတ်ချက်ပါ အသေးစိတ်များပါရှိသည့်နှစ်စဉ်အစီရင်ခံစာအားသတ်မှတ်ပုံစံဖြင့် ကုမ္ပဏီ၏ ဝက်(ဘ်)ဆိုဒ် (သို့မဟုတ်) ကော်မရှင်ရုံး၏ဝက်(ဘ်)ဆိုဒ်သို့ တင်ပြရမည်။

(ဆ) Myanmar SWM Motor Company Limited သည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု နည်းဥပဒေ ၁၉၇ အရ လုပ်ငန်း ဆောင်ရွက်နေစဉ်အတွင်း လုပ်ငန်းအစီရင်ခံစာကို သုံးလလျှင်တစ်ကြိမ် ကော်မရှင်က သတ်မှတ်တောင်းခံသည့်ပုံစံဖြင့် တင်ပြရမည်။

၃။ Myanmar SWM Motor Company Limited သည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေ ပုဒ်မ ၆၅ (ဃ) အရ သက်ဆိုင်သည့် ပြည်ထောင်စုဝန်ကြီး ဌာနများ၊ အစိုးရဌာနနှင့်အဖွဲ့အစည်းများမှ လိုင်စင်သို့မဟုတ် ခွင့်ပြုမိန့်ရယူရန် လိုအပ်လျှင် ဖြစ်စေ၊ မှတ်ပုံတင်ရန် လိုအပ်လျှင်ဖြစ်စေ သက်ဆိုင်ရာဌာန၏ သတ်မှတ်ချက်နှင့်အညီ ဆောင်ရွက်ရမည်။

၄။ Myanmar SWM Motor Company Limited သည် အဆိုပြုလုပ်ငန်းကို အကောင်အထည်ဖော်ဆောင်ရွက်ရာတွင် လုပ်ငန်းသဘာဝအရဖြစ်စေ၊ အခြားလိုအပ်ချက်အရဖြစ်စေ သက်ဆိုင်သည့် ပြည်ထောင်စုဝန်ကြီးဌာနများ၊ အစိုးရဌာနနှင့် အဖွဲ့အစည်းများမှ လိုင်စင် သို့မဟုတ်

ခွင့်ပြုမိန့်ရယူရန် လိုအပ်လျှင်ဖြစ်စေ၊ မှတ်ပုံတင်ရန် လိုအပ်လျှင်ဖြစ်စေ သက်ဆိုင်ရာဌာန၏ သတ်မှတ်ချက်များနှင့်အညီ ဆောင်ရွက်ပြီး မိတ္တူ(၅)စုံစီအား ကော်မရှင်သို့ ပေးပို့ရမည်။

(သောင်းထွန်း)
ဥက္ကဋ္ဌ

**Myanmar SWM Motor Company Limited**

**ဖြန့်ဝေခြင်း**

ပြည်ထောင်စုအစိုးရအဖွဲ့ရုံးဝန်ကြီးဌာန
ပြည်ထဲရေးဝန်ကြီးဌာန
စီမံကိန်း၊ဘဏ္ဍာရေးနှင့် စက်မှုဝန်ကြီးဌာန
ရင်းနှီးမြှုပ်နှံမှုနှင့် နိုင်ငံခြားစီးပွားဆက်သွယ်ရေးဝန်ကြီးဌာန
ပို့ဆောင်ရေးနှင့်ဆက်သွယ်ရေးဝန်ကြီးဌာန
သယံဇာတနှင့်သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေးဝန်ကြီးဌာန
အလုပ်သမား၊ လူဝင်မှုကြီးကြပ်ရေးနှင့် ပြည်သူ့အင်အားဝန်ကြီးဌာန
စီးပွားရေးနှင့် ကူးသန်းရောင်းဝယ်ရေးဝန်ကြီးဌာန
ရန်ကုန်တိုင်းဒေသကြီးရင်းနှီးမြှုပ်နှံမှုကော်မတီ
ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ရုံး
ညွှန်ကြားရေးမှူးချုပ်၊ အမျိုးသားမှတ်တမ်းများမော်ကွန်းတိုက်ဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန်ဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်းအခွန်များဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ စက်မှုကြီးကြပ်ရေးနှင့်စစ်ဆေးရေးဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ ကုန်းလမ်းပို့ဆောင်ရေးညွှန်ကြားမှုဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ အလုပ်သမားညွှန်ကြားရေးဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ လူဝင်မှုကြီးကြပ်ရေးဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေးဦးစီးဌာန
ဦးဆောင်ညွှန်ကြားရေးမှူး၊ အမှတ် ၁ အကြီးစားစက်မှုလုပ်ငန်း
ရန်ကုန်တိုင်းဒေသကြီးဦးစီးမှူးရုံး၊ ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန

# Myanmar SWM Motor Co., Ltd. နှင့် စပ်လျဉ်း၍ လုပ်ငန်းဆောင်ရွက်မှု

| စဉ် | ဆောင်ရွက်သည့် အကြောင်းအရာ | ဆောင်ရွက်သည့် ရက်စွဲ | အကြောင်းပြန်ကြားသည့် ရက်စွဲ | မှတ်ချက် |
|---|---|---|---|---|
| ၁ | ကုမ္ပဏီမှ အဆိုပြုချက်တင်ပြခြင်း | ၂-၁-၂၀၂၀ | | |
| ၂ | အဆိုပြုချက်စိစစ်ရေးအဖွဲ့အစည်းအဝေး (၁/၂၀၂၀)သို့ တင်ပြခြင်း | ၇-၁-၂၀၂၀ | | |
| ၃ | ကုမ္ပဏီသို့အဆိုပြုလွှာလက်ခံကြောင်းပြန်ကြားခြင်း | ၂၉-၁-၂၀၂၀ | | |
| ၄ | အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ အစည်းအဝေးဆုံးဖြတ်ချက် ပြန်ကြားခြင်း | ၉-၁-၂၀၂၀ | | |
| ၅ | လုပ်ငန်းလိုအပ်ချက်အရသယံဇာတနှင့်သဘာဝ ပတ်ဝန်းကျင် ထိန်းသိမ်းရေးဝန်ကြီးဌာနသို့သဘောထားတောင်းခံခြင်း | ၈-၁-၂၀၂၀ | ၁၇-၁-၂၀၂၀ | |
| ၆ | ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ရုံး | ၈-၁-၂၀၂၀ | ၂၇-၁-၂၀၂၀ | |
| ၇ | ပို့/ဆက်ဝန်ကြီးဌာနသို့သဘောထားတောင်းခံခြင်း | ၈-၁-၂၀၂၀ | ၂၂-၁-၂၀၂၀ | |
| ၈ | စီမံကိန်း၊ ဘဏ္ဍာရေးနှင့်စက်မှုဝန်ကြီးဌာနသို့သဘောထားတောင်းခံခြင်း | ၈-၁-၂၀၂၀ | ၂၂-၁-၂၀၂၀ | |
| ၉ | စီးပွားရေးနှင့်ကူးသန်းရောင်းဝယ်ရေးဝန်ကြီးဌာန | ၈-၁-၂၀၂၀ | ၂၇-၁-၂၀၂၀ | |
| ၁၀ | ကုမ္ပဏီမှအဆိုပြုချက် ပြန်လည်တင်ပြခြင်းနှင့် ပြင်ဆင်ချက်များပေးပို့ခြင်း | ၃၁-၁-၂၀၂၀ | - | |
| ၁၁ | ကော်မရှင်အစည်းအဝေး ၃/၂၀၂၀ သို့ တင်ပြခြင်း | ၇-၂-၂၀၂၀ | - | |
| | စုစုပေါင်းကြာမြင့်ရက် | ၃၅ ရက် | | |

## အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ ဆွေးနွေးချက်၊ ဆုံးဖြတ်ချက်အပေါ် ဆောင်ရွက်ပြီးစီးမှု

ကုမ္ပဏီအမည် – Myanmar SWM Motor Co., Ltd.

လုပ်ငန်းအမျိုးအစား – မော်တော်ယာဉ်အမျိုးမျိုးတပ်ဆင်ထုတ်လုပ်ရောင်းချခြင်းနှင့် ရောင်းချပြီးနောက်ပြုပြင်ထိန်းသိမ်းခြင်းလုပ်ငန်း

PAT အကြိမ်/နေ့စွဲ – ၁/၂၀၂၀ (၇-၁-၂၀၂၀)

| စဉ် | အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ ဆုံးဖြတ်ချက်အပေါ် ပြင်ဆင်ရန်အချက်များ | ဆောင်ရွက်ပြီးစီးမှု ပြီး/မပြီး | မှတ်ချက် |
|---|---|---|---|
| ၁ | မြေအထောက်အထားများအား ပြည့်စုံစွာတင်ပြရန်။ | ပြီး | |
| ၂ | ချေးငွေပါဝင်ပါက Investment Plan တွင် ထည့်သွင်းဖော်ပြရန်။ | ပြီး | |
| ၃ | ကုန်ကြမ်းစာရင်းနှင့် ထုတ်လုပ်မှုစာရင်းအား ကိုက်ညီမှုရှိစေရန် စိစစ်ရန်။ | ပြီး | |
| ၄ | အမှန်တကယ်အသုံးပြုရန်လိုအပ်မည့်လျှပ်စစ်ဓါတ်အားပမာဏ ဖော်ပြရန်။ | ပြီး | |
| ၅ | ငွေကြေးအထောက်အထားတင်ပြရန်။ | ပြီး | |
| ၆ | Machine Layout Plan နှင့် Factory Layout Plan များအား စနစ်တကျရေးဆွဲတင်ပြပေးရန်။ | ပြီး | |

ကန့်သတ်

အကြောင်းအရာ။ မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် Myanmar SWM Motor Company Limited မှ မော်တော်ယာဉ်အမျိုးမျိုး တပ်ဆင်ထုတ်လုပ်ရောင်းချခြင်းနှင့် ရောင်းချပြီးနောက် ပြုပြင်ထိန်းသိမ်းခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက်တင်ပြခြင်းကိစ္စ

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည်/ | - Myanmar SWM Motor Co., Ltd. |
| | ရင်းနှီးမြှုပ်နှံသူ | - ဦးနိုင်ထွန်း |
| | ရင်းနှီးမြှုပ်နှံမှုပုံသဏ္ဌာန် | - မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှု |
| | | - ဦးနိုင်ထွန်း (မြန်မာ) ၄၀ % |
| | | - ဦးအောင်သိန်း (မြန်မာ) ၂၀ % |
| | | - ဦးထွေးမြင့် (မြန်မာ) ၂၀ % |
| | | - ဒေါ်ကေသွယ်မိုး (မြန်မာ) ၂၀ % |
| | လုပ်ငန်းအမျိုးအစား | - မော်တော်ယာဉ်အမျိုးမျိုး တပ်ဆင်ထုတ်လုပ် ရောင်းချခြင်းနှင့် ရောင်းချပြီးနောက်ပြုပြင်ထိန်းသိမ်းခြင်းလုပ်ငန်း |
| ၂။ | တည်နေရာ | - မြေကွက်အမှတ်- ၉/ခ၊၁၀/က၊၁၀/ခ၊ မြေတိုင်းရပ်ကွက်အမှတ်- ၅၃၈/က၊ ရွှေပြည်သာမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး |
| ၃။ | မြေပိုင်ရှင် | - ဒေါ်နန်းလိပ် |
| | မြေအကျယ်အဝန်း | - ၁.၆၅၁ဧက (၆၆၈၁.၃၆၆ စတုရန်းမီတာ) |
| | အဆောက်အဦအရေအတွက်/ အကျယ်အဝန်း | - ၁ ထပ် အဆောက်အဦ၁လုံး<br>- ၆၀ ပေ x ၂၂၀ ပေ |
| | မြေနှင့်အဆောက်အဦငှားရမ်းခ | - ကျပ်သိန်း၉၆၀ (တစ်နှစ် ၁စတုရန်းမီတာလျှင် ကျပ်၁၄၃၆၈.၃၃ နှုန်း) |
| | မြေ/အဆောက်အအုံ ငှားရမ်း/ အသုံးပြုခွင့်သက်တမ်း | - ၃၀ နှစ် |
| ၄။ | ရင်းနှီးမြှုပ်နှံမှုပြုလုပ်လိုသည့် သက်တမ်း | - ၃၀ နှစ် |
| ၅။ | တည်ဆောက်မှုကာလ | - ၁နှစ် |

ကန့်သတ်

၆။ စုစုပေါင်းမတည်ငွေရင်း - ကျပ် ၃၃၁၅.၈၈၅ သန်း(US$ ၀.၂၀၃ သန်းအပါအဝင်)

| | စုစုပေါင်း (ကျပ်/သန်း) |
|---|---|
| ငွေသား | ၃၇၇.၇၃၆ |
| ချေးငွေ | ၂,၀၀၀.၀၀၀ |
| စက်နှင့်စက်ပစ္စည်းစာရင်း (ပြည်ပ) | ၃၀၃.၇၆၅ (အမေရိကန်ဒေါ်လာ ၀.၂၀၃ သန်း) |
| စက်နှင့်စက်ပစ္စည်းစာရင်း (ပြည်တွင်း) | ၂၅၀.၈၀၀ |
| ရုံးလုပ်ငန်းသုံးပရိဘောဂစာရင်း (ပြည်တွင်း) | ၃၈.၁၉၀ |
| အဆောက်အဦတန်ဖိုး | ၃၄၅.၃၉၄ |
| **စုစုပေါင်း** | **၃,၃၁၅.၈၈၅ (အမေရိကန်ဒေါ်လာ ၀.၂၀၃ သန်း အပါအဝင်)** |

၇။ ရောင်းချမည့်နည်းစနစ် - ပြည်တွင်း ၁၀၀ % ရောင်းချမည် ဖြစ်ပါသည်။

၈။ ထုတ်လုပ်မှုနှင့်ရောင်းဈေးနှုန်း (တတိယနှစ်)

| အမျိုးအမည် | ရောင်းချမှုအရေအတွက် | ရောင်းဈေးနှုန်း |
|---|---|---|
| SWM G01F | ၁၄၄၀ စီး | ကျပ် ၂၉၀ သိန်း |
| SWM G01 | ၁၄၄၀ စီး | ကျပ် ၂၇၀ သိန်း |
| SWM G05 | ၁၂၀၀ စီး | ကျပ် ၃၁၅ သိန်း |

- ထုတ်လုပ်မည့်အစီအစဉ်တွင် ပထမနှစ်တွင် SWM G01F၊ ဒုတိယနှစ်တွင် SWM G01F နှင့် SWM G01၊ တတိယနှစ်မှစတင်၍ ကားအမျိုးအစား ၃ မျိုးလုံးအား ထုတ်လုပ်မည်ဖြစ်ပါသည်။

| | | |
|---|---|---|
| ၉။ | အခြားတင်ပြချက် | | ပြည်တွင်း | ပြည်ပ |<br>|---|---|---|<br>| **အရေအတွက်** | ၁၀၂ ဦး | ၅ ဦး |<br>| **အမြင့်ဆုံးလစာ** | ကျပ် ၁,၂၀၀,၀၀၀ | US$ ၃၀၀၀ |<br>| **အနိမ့်ဆုံးလစာ** | ကျပ် ၁၈၀,၀၀၀ | US$ ၃၀၀၀ |<br><br>- ၁ US$ = ၁၅၀၀ ကျပ် နှုန်းဖြင့် တွက်ချက်ထားပါသည်။<br>- ရိုးမဘဏ်နှင့် ချုပ်ဆိုထားသည့် ငွေကြေးထုတ်ချေးခြင်းဆိုင်ရာ စာချုပ်နှင့် ချေးငွေပြန်လည်ပေးဆပ်မည့် အစီအစဉ်အား တင်ပြထားပါသည်။<br>- ငွေကြေးအထောက်အထားအဖြစ် Myanmar SWM Motor Co., Ltd. အမည်ဖြင့် ရိုးမဘဏ်တွင် ၃-၁-၂၀၂၀ ရက်စွဲဖြင့် ကျပ် ၁,၉၀၀,၀၁၀,၀၀၀.၀၀ ရှိကြောင်း တင်ပြထားပါသည်။<br>- တရုတ်ပြည်သူ့သမ္မတနိုင်ငံရှိ Brilliance Shineray Chongqing Automobile Co., Ltd. မှ SWM Brand ဖြင့် ကားအမျိုးအစား G01/G01F/750/X7/G05 Model များအား ထုတ်လုပ်ခွင့်ပြုထားသည့် **Production Certificate နှင့် Inspection Report** တင်ပြထားပါသည်။<br>- တရုတ်ပြည်သူ့သမ္မတနိုင်ငံရှိ Brilliance Shineray Chongqing Automobile Co., Ltd. မှ **SWM Brand အသုံးပြုခွင့်နှင့် နည်းပညာ အသုံးပြုခွင့်ပေးထားသည့် Authorization Letter** အားတင်ပြထားပါသည်။<br>- တရုတ်ပြည်သူ့သမ္မတနိုင်ငံရှိ Brilliance Shineray Chongqing Automobile Co., Ltd. နှင့် Myanmar SWM Motor Co., Ltd. တို့ ချုပ်ဆိုမည့် SKD Assembly Technical & License Contract မူကြမ်း တင်ပြထားပါသည်။<br>- တင်သွင်းမည့် စက်ပစ္စည်းများ၏ ဓာတ်ပုံများ၊ ထုတ်လုပ်မည့် |

| | | |
|---|---|---|
| ၁၀။ | စိစစ်တင်ပြချက် | မော်တော်ယာဉ် နမူနာပုံများနှင့် ထုတ်လုပ်မှုနည်းစဉ်နှင့် ထုတ်လုပ်မည့် ကားအမျိုးအစားတစ်မျိုးချင်း၏ Specification များအား တင်ပြထားပါသည်။<br>- ထုတ်လုပ်မည့် ကားအမျိုးအစား တစ်ခုချင်းစီး၏ Specification များအား တင်ပြထားပါသည်။<br>- နှစ်အလိုက် ပြည်တွင်းထုတ်လုပ်မှုအစီအစဉ် (Localization Plan)အား တင်ပြထားပါသည်။ **နောက်ဆက်တွဲ**<br>- ကားနမူနာများအား ဈေးကွက်တွင် မိတ်ဆက်ပြသနိုင်ရန် အတွက် SWM G01F (၆)စီး၊ SWM G01 (၂)စီး ၊ SWM G05(၂) စီးဖြင့် စုစုပေါင်း (၁၀)စီးအား အခွန်ပေးဆောင်၍ တင်သွင်းခွင့် ပြုပါရန် တင်ပြထားပါသည်။<br>- လုပ်ငန်းခွင်သာယာရေး အစီအစဉ်၊ မီးဘေးကာကွယ်ရေးအစီအစဉ်၊ ပတ်ဝန်းကျင် ထိန်းသိမ်း ကာကွယ်ရေး အစီအစဉ် နှင့် Corporate Social Responsibility (CSR) အတွက် နှစ်စဉ် အသားတင်အမြတ်ငွေ၏ ၂%ထားရှိမည်ဖြစ်ကြောင်းတင်ပြထားပါသည်။<br>- အဆိုပြုလုပ်ငန်းသည် ရင်းနှီးမြှုပ်နှံမှု ဦးစားပေး မြှင့်တင်မည့် ကဏ္ဍတွင် ပါဝင်ပြီး ISIC 2910 တွင် အကျုံးဝင်ပါသည်။<br>- ထုတ်လုပ်မည့် မော်တော်ယာဉ်၏ ကုန်ကြမ်းပစ္စည်းများ အား SKD-2 သတ်မှတ်ချက်ပါ ပစ္စည်းအုပ်စု (၁၀) မျိုးဖြင့် တရုတ်ပြည်သူ့သမ္မတနိုင်ငံမှ တင်သွင်းထုတ်လုပ်သွားမည်ဖြစ်ပါသည်။<br>- အဆိုပြုလျှောက်ထားလွှာတွင် ပါဝင်သည့် ဒါရိုက်တာများသည် လက်ရှိတွင် Hyper Auto Co.,Ltd. နှင့် Hyper Best Auto Co.,Ltd.အမည်ဖြင့်တစ်ပတ်ရစ်ကားများတင်သွင်း ရောင်းချခြင်း လုပ်ငန်းအားဆောင်ရွက်လျက်ရှိပါသည်။ |

| | | |
|---|---|---|
| | | - လုပ်ငန်းတိုးချဲ့ရန်အတွက် လက်ရှိစက်ရုံ၏ နောက်ကပ်လျက် မြေ ၅ ကေအား ငှားရမ်းရန်အတွက် ကြိုတင်ညှိနှိုင်းထားပြီး ဖြစ်ကြောင်း တင်ပြထားပါသည်။<br>- စက်ရုံအတွင်း ယာဉ်အစီး ၃၀ ခန့် သိုလှောင်နိုင်ပြီး ရန်ကုန်၊ နေပြည်တော်နှင့် မန္တလေးတွင် အရောင်းပြခန်း (၁၄) ခန်း ထားရှိမည်ဖြစ်ကြောင်း တင်ပြထားပါသည်။<br>- ရန်ကုန်တိုင်းဒေသကြီး အစိုးရအဖွဲ့ရုံး၊ စီမံကိန်း၊ ဘဏ္ဍာရေးနှင့် စက်မှုဝန်ကြီးဌာန၊ စီးပွားရေးနှင့် ကူးသန်းရောင်းဝယ်ရေး ဝန်ကြီးဌာန၊ ပို့ဆောင်ရေးနှင့် ဆက်သွယ်ရေး ဝန်ကြီးဌာနနှင့် ပတ်ဝန်းကျင် ထိန်းသိမ်းရေး ဦးစီးဌာနတို့၏ သဘောထား မှတ်ချက်များနှင့်အညီ လိုက်နာဆောင်ရွက်မည် ဖြစ်ကြောင်း ကုမ္ပဏီမှတင်ပြထားပါသည်။ |

## Localization Plan

| No | Particular | Year | Import | Local |
|---|---|---|---|---|
| 1 | SKD-2 Parts | 1st | 100% | - |
| 2 | SKD-2 Parts | 2nd | 100% | - |
| 3 | SKD-2 Parts | 3rd | 100% | - |
| 4 | Battery+Tyres+Bumpers | 4th | 97% | 3% |
| 5 | Battery+Tyres+Bumpers | 5th | 97% | 3% |
| 6 | Battery+Tyres+Bumpers+Cushions | 6th | 96% | 4% |
| 7 | Battery+Tyres+Bumpers+Cushions | 7th | 96% | 4% |
| 8 | Battery+Tyres+Bumpers+Cushions+ Seats | 8th | 95% | 5% |
| 9 | Battery+Tyres+Bumpers+Cushions+ Seats+Rubber Seals | 9th | 95% | 5% |
| 10 | Battery+Tyres+Bumpers+Cushions+ Seats+Rubber Seals | 10th | 95% | 5% |
| 11 | Battery+Tyres+Bumpers+Cushions+Seats+ Rubber Seals+ Engine Assembly | 11th to 15th | 85% | 15% |
| 12 | Battery+Tyres+Bumpers+Cushions+Seats+Rubber Seals+ Engine Assembly + Transmission (Gear Box) Assembly | 15th to 20th | 80% | 20% |
| 13 | Battery+Tyres+Bumpers+Cushions+Seats+ Rubber Seals+ Engine Assembly + Transmission (Gear Box) Assembly+ Chassis | 20th to 30th | 70% | 30% |

**ကန့်သတ်**

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

စာအမှတ်၊မရက-၃/ခ-၀၆၃/၂၀၂၀( ၀၅၅ )

ရက်စွဲ၊၂၀၂၀ ပြည့်နှစ် ဖေဖော်ဝါရီလ ၄ ရက်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့**
**တင်ပြသည့် အမှာစာ**

အကြောင်းအရာ။ **မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် Myanmar SWM Motor Co., Ltd. မှ မော်တော်ယာဉ်အမျိုးမျိုး တပ်ဆင်ထုတ်လုပ် ရောင်းချခြင်းနှင့် ရောင်းချပြီး နောက်ပြုပြင် ထိန်းသိမ်းခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြခြင်းကိစ္စ**

၁။ မြန်မာနိုင်ငံသား ဦးနိုင်ထွန်း မှ ၄၀%၊ ဦးအောင်သိန်းမှ ၂၀%၊ ဦးထွေးမြင့်မှ ၂၀% နှင့် ဒေါ်ကေသွယ်မိုးမှ ၂၀% ထည့်ဝင်၍ မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် Myanmar SWM Motor Co., Ltd. မှ မြေကွက်အမှတ်- ၉/ခ၊ ၁၀/က၊ ၁၀/ခ၊ မြေတိုင်းရပ်ကွက်အမှတ်- ၅၃၈/က၊ အမှတ်(၄)လမ်းမကြီး၊ ဘုံရှည်ကုန်းရပ်ကွက်၊ ရွှေပြည်သာမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးရှိ မြေဧရိယာ ၁.၆၅၁ဧက (၆၆၈၁.၃၆၆ စတုရန်းမီတာ)တွင် မော်တော်ယာဉ်အမျိုးမျိုးတပ်ဆင် ထုတ်လုပ် ရောင်းချခြင်းနှင့် ရောင်းချပြီးနောက် ပြုပြင်ထိန်းသိမ်းခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက်တင်ပြလာပါသည်။

၂။ အဆိုပြုချက်နှင့်အတူ မြေအထောက်အထားများ၊ တရုတ်ပြည်သူ့သမ္မတနိုင်ငံရှိ Brilliance Shineray Chongqing Automobile Co., Ltd. နှင့် Myanmar SWM Motor Co., Ltd. တို့ချုပ်ဆိုမည့် SKD Assembly Technical & License Contract (မူကြမ်း)၊ Production Certificate၊ Inspection Report၊ SWM Brand အသုံးပြုခွင့်နှင့် နည်းပညာအသုံးပြုခွင့်ပေးထားသည့် Authorization Letter ၊ တင်သွင်းမည့် စက်ပစ္စည်းများ၏ ဓာတ်ပုံများ၊ မော်တော်ယာဉ်နမူနာပုံများ၊ယာဉ်တစ်မျိုးချင်း၏ Specificationနှင့်ထုတ်လုပ်မှုနည်းစဉ်များအားတင်ပြထားပါသည်။

၃။ လုပ်ငန်းစီမံကိန်းကာလမှာ ကနဦး ၃၀ နှစ် ဖြစ်ပြီး တည်ဆောက်ရေးကာလမှာ ၁ နှစ် ဖြစ်ပြီး စုစုပေါင်းမတည်ငွေရင်းပမာဏမှာ ကျပ်၃,၃၁၅.၈၈၅သန်း (အမေရိကန်ဒေါ်လာ ၀.၂၀၃ သန်း အပါအဝင်) ဖြစ်ပါသည်။ မတည်ငွေရင်းထည့်ဝင်မှုများမှာအောက်ပါအတိုင်းဖြစ်ပါသည်-

| | (ကျပ်/သန်း) |
|---|---|
| ငွေသား | ၃၇၇.၇၃၆ |
| ချေးငွေ | ၂,၀၀၀.၀၀၀ |
| စက်နှင့်စက်ပစ္စည်းစာရင်း (ပြည်ပ) | ၃၀၃.၇၆၅ (US$၀.၂၀၃ သန်း) |

**ကန့်သတ်**

| | |
|---|---|
| စက်နှင့်စက်ပစ္စည်းစာရင်း (ပြည်တွင်း) | ၂၅၀.၈၀၀ |
| ရုံးလုပ်ငန်းသုံးပရိဘောဂစာရင်း (ပြည်တွင်း) | ၃၈.၁၉၀ |
| အဆောက်အဦတန်ဖိုး | ၃၄၅.၃၉၄ |
| **စုစုပေါင်း** | **၃,၃၁၅.၈၈၅ (အမေရိကန်ဒေါ်လာ ၀.၂၀၃ သန်းအပါအဝင်)** |

၄။ ပထမနှစ်တွင် ပြည်တွင်းမှ ဝန်ထမ်း ၁၀၂ ဦး နှင့် ပြည်ပ ဝန်ထမ်း ၅ဦး ခန့်အပ်မည်ဖြစ်ပါသည်။ ပြည်တွင်းဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံး လစာမှာ ကျပ် ၁၈၀,၀၀၀ နှင့် အမြင့်ဆုံးလစာမှာ ကျပ် ၁,၂၀၀,၀၀၀ ဖြစ်ပါသည်။ ပြည်ပဝန်ထမ်းတစ်ဦး၏ လစာမှာ US$ ၃၀၀၀ ဖြစ်ပါသည်။

၅။ မော်တော်ယာဉ်များကို ပြည်တွင်းတွင် ၁၀၀% ရောင်းချမည်ဖြစ်ပြီး ထုတ်လုပ်မှုအရေအတွက်နှင့်ရောင်းဈေးနှုန်းများမှာအောက်ပါအတိုင်းဖြစ်ပါသည်-

| **အမျိုးအမည်** | **ရောင်းချမှုအရေအတွက်** | **ရောင်းဈေးနှုန်း** |
|---|---|---|
| SWM G01F | ၁၄၄၀ စီး | ကျပ် ၂၉၀ သိန်း |
| SWM G01 | ၁၄၄၀ စီး | ကျပ် ၂၇၀ သိန်း |
| SWM G05 | ၁၂၀၀ စီး | ကျပ် ၃၁၅ သိန်း |

၆။ ရင်းနှီးမြှုပ်နှံမှု ဌာနဆိုင်ရာ ပူးပေါင်းလုပ်ငန်းအဖွဲ့မှ ပတ်ဝန်းကျင် ထိခိုက်မှု ဆန်းစစ်ခြင်း (EIA) နှင့် ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ်(EMP) အစီရင်ခံစာရေးဆွဲဆောင်ရွက်ရန် သဘောထားပြန်ကြားထားပါသည်။ကုမ္ပဏီမှMyanmar Environment Sustainable Conservation Co., Ltd. နှင့်အစီရင်ခံစာရေးဆွဲဆောင်ရွက်မည်ဖြစ်ကြောင်းတင်ပြထားပါသည်။ **နောက်ဆက်တွဲ(က)**

၇။ ပို့ဆောင်ရေးနှင့် ဆက်သွယ်ရေးဝန်ကြီးဌာန၊ စီးပွားရေးနှင့်ကူးသန်း ရောင်းဝယ်ရေးဝန်ကြီးဌာန၊ စီမံကိန်း၊ဘဏ္ဍာရေးနှင့် စက်မှုဝန်ကြီးဌာနများမှ **ကန့်ကွက်ရန်မရှိကြောင်း** သဘောထားပြန်ကြားပြီးဖြစ်ပါသည်။ **ကုမ္ပဏီမှ ဝန်ကြီးဌာနများ၏ သဘောထားမှတ်ချက် များနှင့်အညီ လိုက်နာဆောင်ရွက်မည်ဖြစ်ကြောင်းတင်ပြထားပါသည်။** **နောက်ဆက်တွဲ(ခ)**

၈။ အဆိုပြုလုပ်ငန်းဆောင်ရွက်မည့် မြေနေရာနှင့် စပ်လျဉ်း၍ ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ရုံးမှ**ကန့်ကွက်ရန်မရှိကြောင်း**သဘောထားပြန်ကြားထားပါသည်။ **နောက်ဆက်တွဲ(ဂ)**

၉။ ငွေကြေးအထောက်အထားအဖြစ် Myanmar SWM Motor Co., Ltd. အမည်ဖြင့် ရိုးမဘဏ်တွင် ၃-၁-၂၀၂၀ ရက်စွဲဖြင့် ကျပ် ၁,၉၀၀,၀၁၀,၀၀၀.၀၀ ရှိကြောင်းတင်ပြထားပါသည်။

**စိစစ်တင်ပြချက်**

၁၀။ အောက်ပါအတိုင်းစိစစ်တင်ပြအပ်ပါသည်-

(က) ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန၊ မူဝါဒနှင့်ဥပဒေရေးရာ ဌာနခွဲမှ ကော်မရှင်ခွင့်ပြုမိန့်နှင့် ဆုံးဖြတ်ချက်(မူကြမ်း)အား ဥပဒေနှင့်ညီညွတ်မှုရှိကြောင်း စိစစ်ပြီးဖြစ်ပါသည်။

(ခ) အလုပ်သမားများအတွက် သက်သာချောင်ချိရေး၊ မီးဘေး ကြိုတင်ကာကွယ်ရေး နှင့် Corporate Social Responsibility(CSR)အစီအစဉ်များတင်ပြထားပါသည်။

(ဂ) SKD-2 စနစ်ပါ ပစ္စည်းအုပ်စု(၁၀)မျိုးဖြင့် ထုတ်လုပ်မည် ဖြစ်ပါကြောင်းနှင့်စတုတ္ထ နှစ်မှ စတင်၍ ပြည်တွင်းကုန်ကြမ်းများအား အသုံးပြုမည်ဖြစ်ပြီး ၂၀နှစ် နှင့် ၃၀ နှစ်ကြားတွင် ၃၀% ခန့် အသုံးပြုရန်လျာထားကြောင်းတင်ပြထားပါသည်။

(ဃ) Brilliance Shineray Chongqing Automobile Co.,Ltd.၏ SWM Brand ဖြင့် ထုတ်လုပ်မည်ဖြစ်ပြီး ပြည်တွင်း၌ ၁၀၀% ရောင်းချမည်ဖြစ်ကြောင်းနှင့် ယင်းကုမ္ပဏီ Myanmar SWM Motor Co., Ltd. တို့ ချုပ်ဆိုမည့် SKD Assembly Technical & License Contract (မူကြမ်း)၊ SWM Brand အသုံးပြုခွင့်နှင့် နည်းပညာ အသုံးပြုခွင့်ပေးထားသည့် Authorization Letter ၊ **Production Certificate နှင့် Inspection Report** များတင်ပြထားပါသည်။

(င) မော်တော်ယာဉ်နမူနာများအား ဈေးကွက်တွင် မိတ်ဆက်ပြသနိုင်ရန် အတွက် SWM G01F (၆)စီး၊ SWM G01 (၂)စီး၊ SWM G05(၂)စီးဖြင့် စုစုပေါင်း (၁၀)စီးအား အခွန်ပေး ဆောင်၍ တင်သွင်းခွင့်ပြုပါရန် တင်ပြထားပါသည်။

(စ) ထုတ်လုပ်မည့်အစီအစဉ်တွင် ပထမနှစ်တွင် SWM G01F၊ ဒုတိယနှစ်တွင် SWM G01F နှင့် SWM G01၊ တတိယနှစ်မှ စတင်၍ ကားအမျိုးအစား ၃ မျိုးလုံးအား ထုတ်လုပ်မည်ဖြစ်ပါသည်။

**ဆုံးဖြတ်ရန်အချက်**

၁၁။ မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် Myanmar SWM Motor Co., Ltd. မှ မော်တော်ယာဉ် အမျိုးမျိုး တပ်ဆင်ထုတ်လုပ် ရောင်းချခြင်းနှင့် ရောင်းချပြီးနောက် ပြုပြင်ထိန်းသိမ်းခြင်းလုပ်ငန်း အား အဆိုပြုချက် တင်ပြလာခြင်းကိစ္စနှင့် စပ်လျဉ်း၍ ခွင့်ပြုမိန့်ထုတ်ပေးရန် သဘောတူ-မတူ။

ဥက္ကဋ္ဌ( )

(သန့်စင်လွင်၊အတွင်းရေးမှူး)

မိတ္တူကို

ရုံးလက်ခံ

# SHINERAY Brilliance Shineray Chongqing Automobile Co,. Ltd.







## Company Introduction

Brilliance Shineray Chongqing Automobile Co., Ltd. is a famous auto maker in China, an joint venture between Brilliance Auto Group and East Shineray Holdings Co., Ltd.

It is headquartered in Chongqing with a manufacturing plant in Chongqing. The plant, with an annual production capacity of 100,000 units and a RMB 1.5 billion investment, has ISO 9001 International Quality Management System Certification, occupies 1,200 ares and equips first-class facilities for pressing, welding, painting and assembling.

?Shineray? is acknowledged as one of the Chinese famous trademarks. At present, the number of Shineray employees is more than 3,000. Owning an independent system in automotive R&D, manufacture, sale and service, Shineray mainly produces mini-size commercial vehicles and 800-1300 cc gasoline engine series. All newly produced Shineray automobiles meet China III Emission Standard (equivalent to Euro 4) and have been certified in compliance with China Compulsory Certification. In 2013, Shineray had invested RMB 0.5 billion to construct a new plant with an annual production capacity of 300,000 units and a land area of 650 ares in Fuling.

First Brilliance Shineray car came off its production line on 23rd October 2008. By the end of 2013, Brilliance Shineray has built more than 2000 sales and after-sales outlets in China but also exported to over 40 countries and regions.

Shineray, carrying forward the historical mission of ?Enriching Man?s Experience in Driving and Living?, will rank among world leading automakers.

Order Credit Report

### Company Basic Information

| | |
|---|---|
| - Company Name | Brilliance Shineray Chongqing Automobile Co,. Ltd. |
| - Location | Chongqing |
| - Business Type | Manufacturer |
| - Year Established | 2008 |
| - Employees Total | Above 1000 |
| - Annual Revenue | More than 100,000,000 |
| - Website | http://www.shinerayauto.com/ |
| - EC21 Storefront | shinerayjimmy.en.ec21.com |
| - Selling Categories | Automobiles & Motorcycles > Automobiles |
| - Keyword | Brilliance Shineray Jinbei Automobile |



### Contact Information

| | |
|---|---|
| - Address | No. 8 Shineray Road, Hangu Town, Jiulongpo District Chongqing, Chongqing |
| - Country/Region | China |
| - Phone | 86 - 023 - 65733756 |
| - Fax | 86 - 023 - 65733527 |
| - Contact | Jimmy |

Contact Now

### EC21 Membership Information

| | |
|---|---|
| - Membership Class | Free Member |
| - Membership Year | 6 years |
| - EC21 Registered Date | Nov 19. 2014 |
| - Authentication | Unverified |

Inquiry Basket( 0 )

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
တိုင်းဒေသကြီးအစိုးရအဖွဲ့
ရန်ကုန်တိုင်းဒေသကြီး

စာအမှတ်၊ ၃ / ၆ - ၃ (၇) / တိုင်းရင်းသား
ရက်စွဲ၊ ၂၀၂၀ ပြည့်နှစ်၊ ဇန်နဝါရီလ ၂၇ ရက်

သို့

M-905
28-1-2020

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်

အကြောင်းအရာ။ **သဘောထားမှတ်ချက်တောင်းခံလာခြင်းကိစ္စ**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၈.၁.၂၀၂၀ ရက်စွဲပါစာအမှတ်၊ မရက - ၃ / ခ - ၀၆၃ / ၂၀၂၀ (၁၁၀)

၁။ မြန်မာနိုင်ငံသား ဦးနိုင်ထွန်းမှ ၄၀%၊ ဦးအောင်သိန်းမှ ၂၀%၊ ဦးထွေးမြင့်မှ ၂၀% နှင့် ဒေါ်ကေသွယ်မိုးမှ ၂၀% ထည့်ဝင်၍ မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် Myanmar SWM Motor Co.,Ltd မှ မြေကွက်အမှတ်-၉/ခ၊ ၁၀/က၊ ၁၀/ခ၊ မြေတိုင်းရပ်ကွက်အမှတ်-၅၃၈/က၊ အမှတ်(၄) လမ်းမကြီး၊ ဘုံရှည်ကုန်းရပ်ကွက်၊ ရွှေပြည်သာမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးရှိ မြေဧရိယာ ၁.၆၅၁ ဧက (၆၆၈၁.၃၆၆ စတုရန်းမီတာ)တွင် SKD စနစ်ဖြင့် မော်တော်ယာဉ်အမျိုးမျိုးတပ်ဆင်ထုတ်လုပ်ရောင်းချခြင်းနှင့် ပြုပြင်ထိန်းသိမ်းခြင်းလုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာမှုအပေါ် သဘောထားမှတ်ချက်ပြန်ကြားပေးနိုင်ပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ရည်ညွှန်းပါစာဖြင့် ညှိနှိုင်းအကြောင်းကြားလာပါသည်။

၂။ အဆိုပါကိစ္စနှင့်စပ်လျဉ်း၍ ၂၄.၁.၂၀၂၀ ရက်နေ့တွင် ကျင်းပပြုလုပ်သော ရန်ကုန်တိုင်းဒေသကြီး အစိုးရအဖွဲ့ အစည်းအဝေးအမှတ်စဉ် (၄/၂၀၂၀)၊ ဆုံးဖြတ်ချက်အပိုဒ်(၇၈)အရ ကန့်ကွက်ရန်မရှိကြောင်း သဘောထားပြန်ကြားအပ်ပါသည်။

ဝန်ကြီးချုပ် (ကိုယ်စား)
(နော်ပန်းသဉ္ဇာမျိုး၊ ကရင်တိုင်းရင်းသားလူမျိုးရေးရာဝန်ကြီး)

မိတ္တူကို

တိုင်းဒေသကြီးဦးစီးမှူး၊ ရန်ကုန်တိုင်းဒေသကြီးရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန
ရန်ကုန်မြောက်ပိုင်းခရိုင်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန
ရွှေပြည်သာမြို့နယ်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန
Myanmar SWM Motor Co.,Ltd
လက်ခံစာတွဲ
မျှောစာတွဲ

D/2020/Cabinet 4(4)

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
တိုင်းဒေသကြီးအစိုးရအဖွဲ့
ရန်ကုန်တိုင်းဒေသကြီး

စာအမှတ်၊ ၃ / ၆ - ၃ ( ၇ ) / တိုင်းရင်းသား
ရက်စွဲ၊ ၂၀၂၀ ပြည့်နှစ်၊ ဇန်နဝါရီလ ၂၂ ရက်

သို့

အတွင်းရေးမှူး
ရန်ကုန်တိုင်းဒေသကြီးရင်းနှီးမြှုပ်နှံမှုကော်မတီ

အကြောင်းအရာ။ **သဘောထားမှတ်ချက်တောင်းခံလာခြင်းကိစ္စ**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၈.၁.၂၀၂၀ ရက်စွဲပါစာအမှတ်၊ မရက- ၃/ ခ- ၀၆၃ / ၂၀၂၀ (၀၁၀)

၁။ မြန်မာနိုင်ငံသား ဦးနိုင်ထွန်းမှ ၄၀%၊ ဦးအောင်သိန်းမှ ၂၀%၊ ဦးထွေးမြင့်မှ ၂၀% နှင့် ဒေါ်ကေသွယ်မိုးမှ ၂၀% ထည့်ဝင်၍ မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် Myanmar SWM Motor Co.,Ltd မှ မြေကွက်အမှတ်-၉/ခ၊ ၁၀/က၊ ၁၀/ခ၊ မြေတိုင်းရပ်ကွက်အမှတ်-၅၃၈/က၊ အမှတ်(၄) လမ်းမကြီး၊ ဘုံရှည်ကုန်းရပ်ကွက်၊ ရွှေပြည်သာမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးရှိ မြေဧရိယာ ၁.၆၅၁ ဧက (၆၆၈၁.၃၆၆ စတုရန်းမီတာ)တွင် SKD စနစ်ဖြင့် မော်တော်ယာဉ်အမျိုးမျိုးတပ်ဆင်ထုတ်လုပ်ရောင်းချခြင်းနှင့် ပြုပြင်ထိန်းသိမ်းခြင်းလုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာမှုနှင့်စပ်လျဉ်း၍ သဘောထားမှတ်ချက် ပြန်ကြားပေးနိုင်ပါရန် ရည်ညွှန်းပါစာဖြင့် ညှိနှိုင်းမေတ္တာရပ်ခံလာပါသည်။

၂။ အဆိုပါကိစ္စနှင့်စပ်လျဉ်း၍ ရန်ကုန်တိုင်းဒေသကြီး ရင်းနှီးမြှုပ်နှံမှုကော်မတီအစည်းအဝေး အမှတ်စဉ် (၁/၂၀၂၀)သို့ ထည့်သွင်းတင်ပြသွားရန် အကြောင်းကြားပါသည်။

ပူးတွဲ - (၂) ရွက်

ဝန်ကြီးချုပ် (ကိုယ်စား)
(အောင်သီဟ၊ ဒုတိယညွှန်ကြားရေးမှူး)

မိတ္တူကို
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၊ အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်
တိုင်းဒေသကြီးကရင်တိုင်းရင်းသားလူမျိုးရေးရာဝန်ကြီး၊ ရန်ကုန်တိုင်းဒေသကြီး
Myanmar SWM Motor Co.,Ltd
လက်ခံစာတွဲ
မျှောစာတွဲ

D/2020/Lesson(K),49

ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့
ရန်ကုန်မြို့
စာအမှတ်၊ ၀၀၁/ MIC (OSS)/ ၀၁( ၁/၂၀)
ရက်စွဲ၊ ၂၀၂၀ ခုနှစ်၊ ဇန်နဝါရီလ ၁၄ ရက်

M.0038
14/1/2020

သို့
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **Myanmar SWM Motor Co., Ltd. မှ SKD စနစ်ဖြင့် မော်တော်ယာဉ်အမျိုးမျိုး တပ်ဆင်ထုတ်လုပ်ရောင်းချခြင်းနှင့် ပြုပြင်ထိန်းသိမ်းခြင်းလုပ်ငန်းဆောင်ရွက်ခွင့် ပြုပါရန်ကိစ္စနှင့်စပ်လျဉ်း၍ သဘောထားမှတ်ချက် ပြန်ကြားခြင်း**

ရည်ညွှန်းချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၈-၁-၂၀၂၀ ရက်စွဲပါစာအမှတ်၊ မရက- ၃/ ခ-၀၆၃/ ၂၀၂၀(၀၀၉)

၁။ မြန်မာနိုင်ငံသား ဦးနိုင်ထွန်းမှ ၄၀%၊ ဦးအောင်သိန်းမှ ၂၀%၊ ဦးထွေးမြင့်မှ ၂၀% နှင့် ဒေါ်ကေသွယ်မိုးမှ ၂၀% ထည့်ဝင်၍ မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် Myanmar SWM Motor Co., Ltd. မှ မြေကွက်အမှတ်- ၉/ခ၊ ၁၀/က၊ ၁၀/ခ၊ မြေတိုင်းရပ်ကွက်အမှတ်- ၅၃၈/က၊ အမှတ် (၄) လမ်းမကြီး၊ ဘုံရှည်ကုန်းရပ်ကွက်၊ ရွှေပြည်သာမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးရှိ မြေဧရိယာ ၁.၆၅၁ ဧက (၆,၆၈၁.၃၆၆ စတုရန်းမီတာ) တွင် SKD စနစ်ဖြင့် မော်တော်ယာဉ်အမျိုးမျိုး တပ်ဆင်ထုတ်လုပ်ရောင်းချခြင်းနှင့် ပြုပြင်ထိန်းသိမ်းခြင်းလုပ်ငန်းကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းနှင့်စပ်လျဉ်း၍ စိစစ်ပြီး သဘောထားမှတ်ချက် ပြန်ကြားပေးနိုင်ပါရန် ရည်ညွှန်းပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ အဆိုပါပေးပို့လာသောရင်းနှီးမြှုပ်နှံမှုဆိုင်ရာ အဆိုပြုလွှာအား စိစစ်ရာတွင် အောက်ပါအချက်များကိုလေ့လာတွေ့ရှိရပါသည် -

(က) ပေးပို့လာသော အဆိုပြုလွှာတွင် ကနဦးရင်းနှီးမြှုပ်နှံမှုကာလမှာ (၃၀) နှစ်ဖြစ်ပြီး၊ တည်ဆောက်ရေးကာလမှာ (၁) နှစ် ဖြစ်ကြောင်း၊

( ခ) အဆိုပြုလုပ်ငန်းအား မြေ (၆,၆၈၁.၃၆၆ စတုရန်းမီတာ) တွင် (၆၆ပေx၂၀ပေ) ရှိ Steel Structure အဆောက်အဦ (၁) လုံးနှင့် လိုအပ်သောအဆောက်အဦများတည်ဆောက်ကာ လုပ်ငန်းများ ဆောင်ရွက်သွားမည် ဖြစ်ကြောင်း၊

( ဂ) ထုတ်လုပ်မှုအနေဖြင့်ပထမနှစ်တွင်လူစီးမော်တော်ယာဉ် (၁၂၀၀) စီးပြည်တွင်း၌တပ်ဆင်ထုတ်လုပ်မည်ဖြစ်ပြီး ဈေးကွက်အပေါ်မူတည်၍ ထုတ်လုပ်မှု တိုးမြှင့်မည်ဖြစ်ကာ (၁၀) နှစ်အတွင်း အစီးရေ (၆၂၄၀) အထိ ထုတ်လုပ်ရောင်းချရန် ရည်ရွယ်ပါကြောင်း၊

(ဃ) လုပ်ငန်းမှနှစ်စဉ်ရေဂါလံ (၅) သောင်းခန့်အားအသုံးပြုကာ လုပ်ငန်းဆောင်ရွက်သွားမည် ဖြစ်ကြောင်း၊

( င) ဝန်ထမ်းများသက်သာချောင်ချိရေးအစီအစဉ်များ၊ မီးဘေးကြိုတင်ကာကွယ်ရေးအစီအမံများကိုလည်း ထားရှိ ဆောင်ရွက်သွားမည် ဖြစ်ကြောင်း၊

(စ) လုပ်ငန်းမှရရှိလာမည့်အသားတင်အမြတ်ငွေ၏ (၂%) ကိုလူမှုရေးဆိုင်ရာတာဝန်ခံဆောင်ရွက်မှု (Corporate Social Responsibility-CSR) လုပ်ငန်းများတွင် ထည့်ဝင်အသုံးပြုသွားမည် ဖြစ်ကြောင်း၊

(ဆ) သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် စပ်လျဉ်း၍ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာနမှထုတ်ပြန်ထားသောဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံး/လုပ်နည်း၊ အမိန့်နှင့်ညွှန်ကြားချက်များကို လိုက်နာဆောင်ရွက်သွားမည် ဖြစ်ကြောင်း ဖော်ပြပါရှိပါသည်။

၃။ လုပ်ငန်းလည်ပတ်ဆောင်ရွက်ခြင်းနှင့်စပ်လျဉ်း၍ အောက်ဖော်ပြပါ ပတ်ဝန်းကျင်ဆိုင်ရာထိခိုက်မှုများဖြစ်ပေါ်လာနိုင်ကြောင်း လေ့လာသုံးသပ်ရပါသည်-

(က) Myanmar SWM Motor Co., Ltd. မှ SKD စနစ်ဖြင့် မော်တော်ယာဉ်အမျိုးမျိုးတပ်ဆင်ထုတ်လုပ်ရောင်းချခြင်းနှင့် ပြုပြင်ထိန်းသိမ်းခြင်းလုပ်ငန်းဆောင်ရွက်ရန်အတွက် အဆောက် အဦများ ပြုပြင်တည်ဆောက်ရာ၌ မြေပြုပြင်ခြင်းနှင့် ဆောက်လုပ်ရေးလုပ်ငန်းခွင်မှ ထွက်ရှိလာမည့် ဖုန်မှုန့်များ၊ တုန်ခါမှုများ၊ လုပ်ငန်းသုံးယာဉ်/ယန္တရားများမှထွက်ရှိလာမည့် စက်ဆီ၊ ချောဆီ၊ အခိုးအငွေ့များကြောင့် အနီးပတ်ဝန်းကျင်ရှိလေထု၊မြေထုနှင့်ရေထုညစ်ညမ်းမှုဖြစ်ပေါ်စေနိုင်ခြင်း၊

(ခ) ထုတ်လုပ်မှုလုပ်ငန်းအဆင့်ဆင့်တွင် စက်ပစ္စည်းများ အသုံးပြုဆောင်ရွက်ရသဖြင့် စက်ယန္တရားများ၏ ဆူညံသံများကြောင့် ပတ်ဝန်းကျင်ညစ်ညမ်းမှုနှင့် အသံညစ်ညမ်းမှုဖြစ်ပေါ်စေနိုင်ခြင်း၊

(ဂ) အလုပ်ရုံမှထွက်ရှိလာမည့် စွန့်ပစ်ပစ္စည်းများဖြစ်သော စွန့်ပစ်အရည်/အစိုင်အခဲများနှင့် ဝန်ထမ်းများ၏ မိလ္လာစွန့်ပစ်ပစ္စည်းများ၊ အရည်များကြောင့် ပတ်ဝန်းကျင်ညစ်ညမ်းစေနိုင်ခြင်း၊

(ဃ) လုပ်ငန်းလည်ပတ်ရာတွင် လိုအပ်သည့် ရေအားစနစ်တကျ ထုတ်ယူသုံးစွဲမှု မရှိခြင်းကြောင့်မြေအောက်ရေအရည်အသွေးနှင့် မျက်နှာပြင်နိမ့်ကျခြင်း၊

(င) လုပ်ငန်းဆောင်ရွက်ရာတွင် ဂဟေဆော်ခြင်းနှင့် စက်ပစ္စည်းကိရိယာများမှ ထွက်ရှိလာမည့် အခိုး၊ အငွေ့၊ အနံ့အ သက်များနှင့် ဆေးမှုတ်ခြင်းလုပ်ငန်းများမှ ထွက်ရှိလာမည့် အနံ့အသက်များကြောင့် လေထုညစ်ညမ်းခြင်း၊ လုပ်ငန်းခွင်လုပ်သားများတွင် မျက်စေ့နှင့် အသက်ရှူလမ်းကြောင်းဆိုင်ရာ ရောဂါများ ဖြစ်ပွားစေနိုင်ပြီး ပတ်ဝန်းကျင်ရှိ ပြည်သူလူထုကို အနှောင့်အယှက် ဖြစ်စေနိုင်ခြင်းစသည့် ပတ်ဝန်းကျင်ဆိုင်ရာထိခိုက်မှု ပြဿနာများ ဖြစ်ပေါ်လာနိုင်ပါသည်။

၄။ သို့ဖြစ်ပါ၍ Myanmar Hexing Natural Rubber Industry Company Limited မှ အဆင့်မြင့်ရာဘာထုတ်လုပ်ခြင်းနှင့်ရောင်းချခြင်းလုပ်ငန်းဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းကိစ္စနှင့် စပ်လျဉ်း၍ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဆိုင်ရာဆောင်ရွက်ရမည့်လုပ်ငန်းများကိုအောက်ပါအတိုင်းသဘောထားမှတ်ချက် ပြန်ကြားအပ်ပါသည်-

(က) အဆိုပြုလုပ်ငန်းများကြောင့်ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့်ကျန်းမာရေးထိခိုက်ပျက်စီးမှုများကို လျော့နည်းစေရန်အတွက် လုပ်ငန်းဆိုင်ရာ အချက်အလက်များကိုပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှုအနည်းဆုံးဖြစ်

စေမည့် နည်းစနစ်များအား အသုံးပြုရန်နှင့် အဆိုပြုလွှာတွင် ဖော်ပြထားသည့် လူမှုရေးဆိုင်ရာတာဝန်ခံဆောင်ရွက်မှု (Corporate Social Responsibility-CSR) အတွက်အသားတင်အမြတ်ငွေ၏ (၂%) ကို အသုံးပြုခြင်းအပါအဝင် ဆောင်ရွက်ပေးသွားမည့် ကတိကဝတ်များကို တိတိကျကျ လိုက်နာ အကောင်အထည်ဖော် ဆောင်ရွက်ရန်၊

(ခ) အဆိုပြုလုပ်ငန်းနှင့်စပ်လျဉ်း၍ **ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း(Environmental Impact Assessment-EIA)**ကို ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာလုပ်ထုံးလုပ်နည်း အပိုဒ် (၄၉)၊ (၆၃) နှင့် အညီ ပြုစု ဆောင်ရွက်ရန်၊

(ဂ) ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းအပိုဒ် ၄၅၊ ၄၆ တို့အရ စီမံကိန်းအဆိုပြုသူသည် ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းလုပ်ငန်း **(Environmental Impact Assessment-EIA)** မစတင်မီ အဆိုပါလုပ်ငန်းကို ဆောင်ရွက်မည့်တတိယပုဂ္ဂိုလ် (သို့မဟုတ်) အဖွဲ့အစည်းနှင့်စပ်လျဉ်း၍ သယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန၏ ဆုံးဖြတ်ချက် ရယူရန်၊

(ဃ) ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းအပိုဒ် ၄၇ မှ အပိုဒ် ၅၄ ထိ ဖော်ပြချက်အရ စီမံကိန်းအဆိုပြုသူသည် နယ်ပယ်အတိုင်းအတာသတ်မှတ်ခြင်း အစီရင်ခံစာနှင့် ဆောင်ရွက်မည့်လုပ်ငန်းတာဝန်များကို လမ်းညွှန်ချက်များနှင့်အညီ ဆောင်ရွက်သွားမည့် လုပ်ငန်းတစ်ခုချင်းအလိုက် လေ့လာဆန်းစစ်ပြုစု၍ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ သယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာနသို့ တင်ပြအတည်ပြုချက် ရယူရန်၊

(င) အတည်ပြုပြီးသော နယ်ပယ်အတိုင်းအတာ သတ်မှတ်ခြင်း အစီရင်ခံစာပါ အချက်များအပေါ်အခြေခံ၍ ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းအပိုဒ် (၆၃) ပါအချက်များနှင့်အညီ **ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်းအစီရင်ခံစာ (EIA)** ကို ဆောင်ရွက်ပြီး သယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေး ဝန်ကြီးဌာနသို့ ရေးဆွဲတင်ပြရန်၊

(စ) အထက်ပါ လေ့လာဆန်းစစ်မှု ရလဒ်များကို အခြေခံ၍ ပတ်ဝန်းကျင်နှင့် လူမှုရေးထိခိုက်မှုမဖြစ်ပေါ်စေရေး (သို့မဟုတ်) ထိခိုက်မှုအနည်းဆုံးဖြစ်စေသည့်လုပ်ငန်းဆောင်ရွက်မည့်အစီအစဉ် စွန့်ပစ်ပစ္စည်း/ စွန့်ပစ်အရည် စီမံခန့်ခွဲမှုအစီအစဉ်၊ စောင့်ကြပ်ကြည့်ရှုစစ်ဆေးမည့်အစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှု လျော့ပါးစေရေး ဆောင်ရွက်မည့်လုပ်ငန်းများအတွက်သုံးစွဲမည့် ရန်ပုံငွေစသည်တို့ပါဝင်သည့် **ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ် (Environmental Management Plan-EMP)** ကိုပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာလုပ်ထုံးလုပ်နည်းပါ အချက်အလက်များနှင့်အညီ ရေးဆွဲတင်ပြရန်နှင့် စီမံချက်ပါအတိုင်း အကောင်အထည်ဖော် ဆောင်ရွက်ရန်။

(ဆ) ပြဋ္ဌာန်းထုတ်ပြန်ထားပြီးဖြစ်သော ပတ်ဝန်းကျင်ထိန်းသိမ်းရေး ဥပဒေ၊ နည်းဥပဒေ၊ ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်း၊ အမျိုးသားပတ်ဝန်းကျင်ဆိုင်ရာအရည်အသွေး (ထုတ်လွှတ်မှု) လမ်းညွှန်ချက်များတွင်ဖော်ပြပါရှိသည့်လိုက်နာဆောင်ရွက်ရမည့် အချက်များ၊ လုပ်ထုံးလုပ်နည်းများ၊ လမ်းညွှန်ချက်များနှင့်အညီ လိုက်နာ

ဆောင်ရွက်ရန်နှင့် တင်ပြရမည့်အစီအစဉ်အလိုက် လိုအပ်သည့်ပုံစံများဖြည့်စွက်၍တစ်ပါတည်း တင်ပြရန်၊

(ဇ) သက်ဆိုင်ရာ တိုင်းဒေသကြီး အစိုးရအဖွဲ့၏ ကြီးကြပ်ကွပ်ကဲမှုဖြင့် လုပ်ငန်းဆောင်ရွက်မည့်နေရာဒေသတွင် နေထိုင်သော ဒေသခံပြည်သူများ၏ ဆန္ဒနှင့် သဘောထားများကိုလည်း ရယူ ဆောင်ရွက်ရန်၊

(အောင်သူကျော်)
ဒုတိယညွှန်ကြားရေးမှူး
အဖွဲ့ခေါင်းဆောင်(ပတ်ဝန်းကျင်)
ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့

**မိတ္တူကို**

ပြည်ထောင်စုဝန်ကြီးရုံး
သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ သစ်တောဦးစီးဌာန
ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့သစ်လုပ်ငန်း
ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
ညွှန်ကြားရေးမှူး၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ ရန်ကုန်တိုင်းဒေသကြီး
ရုံးလက်ခံ

၁၃ ၄၆၀ / ၂၇.၁



# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# ပို့ဆောင်ရေးနှင့် ဆက်သွယ်ရေးဝန်ကြီးဌာန
# ဝန်ကြီးရုံး

စာအမှတ်၊ ရထ-၂/ရန(MIC)/၂၀၂၀( ၂၀၂ )

ရက် စွဲ၊ ၂၀၂၀ ပြည့်နှစ်၊ ဇန်နဝါရီလ ၂၂ ရက်

MIC-0228 24.1.2020

M.0208 28/1/2020

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **သဘောထားမှတ်ချက်ပြန်ကြားခြင်း**

ရည် ညွှန်း ချက် ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၀၂၀ ပြည့်နှစ်၊ ဇန်နဝါရီလ (၈) ရက်စွဲပါ စာအမှတ်၊ မရက- ၃/ခ- ၀၆၃ / ၂၀၂၀ (၀၁၁)

၁။ ရန်ကုန်တိုင်းဒေသကြီး၊ ရွှေပြည်သာမြို့နယ်၊ ဘုံရှည်ကုန်းရပ်ကွက်၊ အမှတ် (၄) လမ်းမကြီး၊ မြေတိုင်းရပ်ကွက်အမှတ်- ၅၃၈/က၊ မြေကွက်အမှတ်- ၉/ခ၊ ၁၀/က၊ ၁၀/ခ၊ မြေဧရိယာ (၁.၆၅၁) ဧက (၆၆၈၁.၃၆၆ စတုရန်းမီတာ) တွင် SKD စနစ်ဖြင့် မော်တော်ယာဉ်အမျိုးမျိုး တပ်ဆင်ထုတ်လုပ်ရောင်းချခြင်းနှင့် ပြုပြင်ထိန်းသိမ်းခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုရန် Myanmar SWM Motor Co.,Ltd က လျှောက်ထားလာမှုအပေါ် အဆိုပါလုပ်ငန်းတွင် အသုံးပြုမည့် ကုန်ကြမ်းများနှင့် တင်သွင်းမည့် စက်ပစ္စည်းများသည် လုပ်ငန်းသဘာဝနှင့် ကိုက်ညီခြင်း ရှိ/ မရှိ၊ ထုတ်လုပ်မှုလုပ်ငန်းစဉ်နှင့် လုပ်ငန်းဆောင်ရွက်ခွင့်ပြုရန် သင့်/ မသင့်စသည့်အချက်များအပေါ် သဘောထားမှတ်ချက် ပြန်ကြားပေးနိုင်ပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်က ရည်ညွှန်းပါစာဖြင့် ညှိနှိုင်းလာခြင်းကိစ္စဖြစ်ပါသည်။

၂။ Myanmar SWM Motor Co.,Ltd ၏ အဆိုပြုတင်ပြချက်တွင် ယာဉ်ထုတ်လုပ်ခြင်းအတွက် SKD 2 စနစ်တွင်ပါဝင်သည့် စက်ပစ္စည်းအစိတ်အပိုင်း (၁၀) မျိုးစာရင်းနှင့် ထုတ်လုပ်မည့် မော်တော်ယာဉ်၏ Specification အချက်အလက်များကို ဖော်ပြထားကြောင်း တွေ့ရှိရပါသည်။ ပြည်တွင်းကုမ္ပဏီများက SKD စနစ်ဖြင့် မော်တော်ယာဉ်များ တပ်ဆင်ထုတ်လုပ်ရာတွင် အောက်ဖော်ပြပါအချက်များကို လိုက်နာဆောင်ရွက်ရမည်ဖြစ်ပါသည်-

(က) Asean Motor Vehicle Requirement Standard ၊

(ခ) မြန်မာနိုင်ငံသည် လက်ယာကပ်မောင်းစနစ် ကျင့်သုံးပါသဖြင့် Road Safety ဖြစ်စေရန် ယာဉ်ကြောစနစ်နှင့် လိုက်လျောညီထွေဖြစ်စေမည့် လက်ဝဲဘက်စတီယာရင်မောင်းစနစ် (Left Hand Drive) ယာဉ်များသာ ထုတ်လုပ်ရန်၊

(ဂ) ထုတ်လုပ်မည့် မော်တော်ယာဉ်၏ အမျိုးအမည်၊ အမျိုးအစားအတွက် ပုံစံအတည်ပြုသတ်မှတ်ရရှိပြီးဖြစ်ရမည်။ ထုတ်လုပ်မည့် မော်တော်ယာဉ်နှင့်ပတ်သက်သည့် Specification များပြည့်စုံစွာ ဖော်ပြရန်၊

(ဃ) အများပြည်သူဆိုင်ရာလမ်းများပေါ်တွင် အန္တရာယ်ကင်းပြီး လုံခြုံစိတ်ချစွာ မောင်းနှင်အသုံးပြုနိုင်ရေးအတွက် မော်တော်ယာဉ် စမ်းသပ်စစ်ဆေးသည့် အလုပ်ရုံ (Vehicle Testing Workshop) တွင်ရှိသော Test Lane ဖြင့် ယာဉ်ကြံ့ခိုင်မှု စစ်ဆေးပြီး အောင်မြင်သည့်ယာဉ်များကိုသာ ဈေးကွက်အတွင်းသို့ ဖြန့်ဖြူးရောင်းချရန်။

၃။ စီမံကိန်း၊ ဘဏ္ဍာရေးနှင့် စက်မှုဝန်ကြီးဌာနက ထုတ်ပေးသည့် Certificate of Approval (CoA) ဖြင့် ကနဦးမှတ်ပုံတင် ဆောင်ရွက်ပေးရန်နှင့် အစီး (၁၀၀) ပြည့်မြောက်ပြီးနောက် ပုံမှန်ဆက်လက်ထုတ်ပေးသည့် မော်တော်ယာဉ်များကို သက်ဆိုင်ရာကုမ္ပဏီ၏ Inspection Certificate (IC) ဖြင့်သာ ဆက်လက်ဆောင်ရွက်ရန် ဖြစ်ပါသည်။

၄။ ပို့ဆောင်ရေးနှင့်ဆက်သွယ်ရေးဝန်ကြီးဌာန၊ ကုန်းလမ်းပို့ဆောင်ရေးညွှန်ကြားမှုဦးစီးဌာနအနေဖြင့် SKD စနစ်ဖြင့် ထုတ်လုပ်သည့် မော်တော်ယာဉ်များ ကနဦးမှတ်ပုံတင်လုပ်ငန်းဆောင်ရွက်ပါက အောက်ပါအထောက်အထားများ ရယူစိစစ်လျက်ရှိပါသည်-

(က) Letter of Authorization From Origin Co., Ltd

(ခ) QC would be Signed by Origin Co., Ltd

(ဂ) Both Our Inspectors (Engineers)

(ဃ) Vehicle Identification (VIN Plate)

၅။ သို့ဖြစ်ပါ၍ မြန်မာနိုင်ငံ၏ မော်တော်ယာဉ်ထုတ်လုပ်မှုကဏ္ဍသည် ပြည်တွင်းတွင် မော်တော်ယာဉ် (၁) စီး ပြည့်စုံစွာ ထုတ်လုပ်နိုင်သည့် အဆင့်မဟုတ်ဘဲ ပြည်ပတွင် ထုတ်လုပ်ပြီးဖြစ်သည့် မော်တော်ယာဉ်အစိတ်အပိုင်းများကို မှာယူတင်သွင်း၍ ပြန်လည်တပ်ဆင်သည့် SKD စနစ်သာ ဖြစ်နေသေးခြင်း၊ မော်တော်ယာဉ်ထုတ်လုပ်ခြင်းလုပ်ငန်းများကို ပုဂ္ဂလိကကဏ္ဍမှ စတင်ဆောင်ရွက်နေသည်မှာ မကြာမြင့်သေးခြင်းများကြောင့် ပြည်တွင်းတွင် မော်တော်ယာဉ်တပ်ဆင်ထုတ်လုပ်ခြင်းကို ဦးဆောင်ပြုလုပ်လျက်ရှိပြီး လက်ရှိတွင် SKD စနစ်ဖြင့် ထုတ်လုပ်ထားသော ယာဉ်များအတွက် Certificate of Approval (CoA) ထုတ်ပေးလျက်ရှိသည့် စီမံကိန်း၊ ဘဏ္ဍာရေးနှင့် စက်မှုဝန်ကြီးဌာန၏ ထောက်ခံချက်များနှင့် အကြံပြုချက်များကို အခြေခံ၍စဉ်းစားလုပ်ဆောင်သင့်ပါကြောင်း သဘောထားမှတ်ချက် ပြန်ကြားအပ်ပါသည်။

ဒေါ်မြ (signature)

ပြည်ထောင်စုဝန်ကြီး (ကိုယ်စား)

ဝင်းခန့်၊ အမြဲတမ်းအတွင်းဝန်

မိတ္တူကို

ကုန်းလမ်းပို့ဆောင်ရေးညွှန်ကြားမှုဦးစီးဌာန

ရုံးလက်ခံ/မျှောစာတွဲ

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
စီးပွားရေးနှင့်ကူးသန်းရောင်းဝယ်ရေးဝန်ကြီးဌာန
ဝန်ကြီးရုံး

စာအမှတ် ၊ စက - ၁၄/ ၄ - ၁၂ / ၂၀၂၀ ( ၃၁ )
ရက်စွဲ ၊ ၂၀၂၀ ပြည့်နှစ်၊ ဇန်နဝါရီလ ၂၇ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်ရုံး

အကြောင်းအရာ။ **သဘောထားမှတ်ချက် ပြန်ကြားပေးပို့ခြင်း**

ရည် ညွှန်း ချက် ။ (၁) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၆ - ၁၁ - ၂၀၁၇ ရက်စွဲပါအမိန့်ကြော်ငြာစာ အမှတ် ၈၅/၂၀၁၇

(၂) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၈ - ၁ - ၂၀၂၀ ရက်စွဲပါစာအမှတ်၊ မရက - ၃/ ခ - ၀၆၃/ ၂၀၂၀ (၀၁၂)

၁။ Myanmar SWM Motor Co.,Ltd မှ မြေကွက်အမှတ် - ၉/ ခ၊ ၁၀/ က၊ ၁၀/ ခ၊ မြေတိုင်းရပ်ကွက် အမှတ် - ၅၃၈/ က၊ အမှတ် (၄) လမ်းမကြီး၊ ဘုံရှည်ကုန်းရပ်ကွက်၊ ရွှေပြည်သာမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးရှိ မြေဧရိယာ ၁.၆၅၁ဧက (၆၆၈၁. ၃၆၆ စတုရန်းမီတာ) တွင် SKD စနစ်ဖြင့် မော်တော်ယာဉ်အမျိုးမျိုး တပ်ဆင်ထုတ်လုပ်ရောင်းချခြင်းနှင့် ပြုပြင်ထိန်းသိမ်းခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန်တင်ပြထားရာ လုပ်ငန်းအတွက်တင်ပြထားသည့် ကုန်ကြမ်းများတင်သွင်းခြင်းနှင့်စပ်လျဉ်း၍ သဘောထားမှတ်ချက်ပြန်ကြားပေးနိုင်ပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်က ရည်ညွှန်း(၂)ပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ရည်ညွှန်း (၁) ပါအမိန့်ကြော်ငြာစာဖြင့် SKD-2 စနစ်ဖြင့် မော်တော်ယာဉ်အမျိုးမျိုး တပ်ဆင်ထုတ်လုပ်ခြင်းလုပ်ငန်းအတွက် တင်သွင်းထုတ်လုပ်ခွင့်ပြုမည့် မော်တော်ယာဉ်ကုန်ကြမ်းပစ္စည်း အစိတ်အပိုင်း(၁၀)မျိုးကို သတ်မှတ်ထုတ်ပြန်ထားရာ ကုမ္ပဏီမှ ထုတ်လုပ်မည့်မော်တော်ယာဉ်များအတွက် ပြည်ပမှတင်သွင်းမည့် အဓိကကုန်ကြမ်းများသည် သတ်မှတ်ချက်များနှင့်ကိုက်ညီကြောင်း စိစစ်တွေ့ရှိရပြီး မော်တော်ယာဉ်တပ်ဆင်ထုတ်လုပ်ခြင်း လုပ်ငန်းနှင့်ဆက်စပ်အသုံးပြုမည့် အခြားကုန်ကြမ်းပစ္စည်းများမှာလည်း ယေဘူယျအားဖြင့် လုပ်ငန်းသဘောသဘာဝနှင့်ကိုက်ညီကြောင်း တွေ့ရှိရပါသည်။

၃။ သို့ဖြစ်ပါ၍ Myanmar SWM Motor Co.,Ltd မှ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုမိန့်ဖြင့် SKD စနစ်ဖြင့် မော်တော်ယာဉ်အမျိုးမျိုး ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ရန် ပြည်ပမှ ကုန်ပစ္စည်းများတင်သွင်းရာတွင် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ထုတ်ပြန်ထားသော မော်တော်ယာဉ်အမျိုးမျိုး တပ်ဆင်ထုတ်လုပ်ခြင်းလုပ်ငန်းအတွက် SKD-2 စနစ်ဖြင့် ဆောင်ရွက်ရန် ကြေညာသည့် အမိန့်ကြော်ငြာစာ ၈၅/၂၀၁၇ နှင့် ကိုက်ညီစေရန်လိုအပ်မည်ဖြစ်ပြီး ယင်းသတ်မှတ်ချက်အတိုင်း လိုက်နာဆောင်ရွက်မည်ဆိုပါက ကန့်ကွက်ရန်မရှိသဘောတူညီပါကြောင်းနှင့် စီးပွားရေး

နှင့်ကူးသန်းရောင်းဝယ်ရေးဝန်ကြီးဌာနအနေဖြင့် သတ်မှတ်ထုတ်ပြန်ထားသော ဥပဒေ၊လုပ်ထုံးလုပ်နည်းများနှင့်အညီ ပူးပေါင်းဆောင်ရွက်ပေးသွားမည်ဖြစ်ပါကြောင်း ပြန်ကြားအပ်ပါသည်။

ပြည်ထောင်စုဝန်ကြီး (  )
( ခင်သက်ထား ၊ ဒုတိယအမြဲတမ်းအတွင်းဝန် )

မိတ္တူကို

- ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေးဦးစီးဌာန

NPY-0199
23.1.2020

DA ၄၅
၂၄.၁

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
# စီမံကိန်း၊ ဘဏ္ဍာရေးနှင့် စက်မှုဝန်ကြီးဌာန
# ဝန်ကြီးရုံး

စာအမှတ်၊ စဘစ/စက်မှု-၅/၃ (၁၃၄/၂၀၂၀)
ရက်စွဲ၊ ၂၀၂၀ ပြည့်နှစ်၊ ဇန်နဝါရီလ ၂၂ ရက်

M.0096
27/1/2020

သို့

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

အကြောင်းအရာ။ **သဘောထားမှတ်ချက် ပေးပို့ခြင်း**

ရည်ညွှန်းချက် ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၈.၁.၂၀၂၀ ရက်စွဲပါ စာအမှတ်၊ မရက-၃/ခ-၀၆၃/ ၂၀၂၀(၀၁၃)

၁။ မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် Myanmar SWM Motor Co., Ltd. မှ SKD စနစ်ဖြင့် မော်တော်ယာဉ်အမျိုးမျိုး တပ်ဆင်ထုတ်လုပ် ရောင်းချခြင်းနှင့် ပြုပြင်ထိန်းသိမ်းခြင်း လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုချက် တင်ပြလာမှုနှင့် စပ်လျဉ်း၍ အဆိုပါလုပ်ငန်းတွင် အသုံးပြုမည့် ကုန်ကြမ်းများနှင့် တင်သွင်းမည့်စက်ပစ္စည်းများ သည် လုပ်ငန်းသဘာဝနှင့်ကိုက်ညီမှု ရှိ/မရှိ၊ လုပ်ငန်းလည်ပတ်ရန် သင့်လျော်သည့် စက်ပစ္စည်း အမျိုးအစား၊ အရေအတွက်နှင့် ကိုက်ညီမှု ရှိ/မရှိ၊ ထုတ်လုပ်မှု လုပ်ငန်းစဉ်နှင့် လုပ်ငန်းဆောင်ရွက် ခွင့်ပြုရန် သင့်/မသင့် သဘောထားမှတ်ချက် ပြန်ကြားပေးရန် ရည်ညွှန်းပါစာဖြင့် ညှိနှိုင်းလာ ပါသည်။

၂။ Myanmar SWM Motor Co., Ltd. မှ အဆိုပြုတင်ပြချက်များအပေါ် အောက်ပါအတိုင်း စိစစ်တွေ့ရှိရပါသည် -

(က) Myanmar SWM Motor Co., Ltd. သည် မြန်မာနိုင်ငံသားပိုင်ကုမ္ပဏီဖြစ်ပြီး၊ ရန်ကုန်တိုင်းဒေသကြီး၊ ရွှေပြည်သာမြို့နယ်ရှိ မြေဧရိယာ(၁.၆၅၁)ဧကပေါ်တွင် လုပ်ငန်းဆောင်ရွက်လိုခြင်းဖြစ်ပြီး၊ အဆိုပြုလုပ်ငန်းအတွက် မြေဧကသည် မော်တော်ယာဉ် တပ်ဆင်ထုတ်လုပ်မည့် လုပ်ငန်းများအား Line by Line, Phase by Phase ဖြင့် စနစ်တကျ ဆောင်ရွက်နိုင်ရန် လိုအပ်မည်ဖြစ်ခြင်း၊

(ခ) လိုအပ်သည့် ကုန်ကြမ်းပစ္စည်းများနှင့် စက်ပစ္စည်းအစိတ်အပိုင်းများအား တရုတ် နိုင်ငံ၊ Brilliance Shineray Chongqing Automobile Co., Ltd. မှ တင်သွင်း၍ SWM အမှတ်တံဆိပ်ဖြင့် SWM G01F, G01 နှင့် G05 မော်တော်ယာဉ်အမျိုးအစား (၃)မျိုးအား SKD စနစ်ဖြင့် ထုတ်လုပ်မည် ဖြစ်ကြောင်း စိစစ်တွေ့ရှိရပြီး၊ အဆိုပါ ကုမ္ပဏီမှ နည်းပညာနှင့် သင်တန်းပို့ချပေးခြင်းများ ဆောင်ရွက်ပေးမည်ဖြစ် ကြောင်းနှင့် Authorized Company ဖြစ်ကြောင်း အထောက်အထားများ ပါရှိ သည်ကို စိစစ်တွေ့ရှိရခြင်း၊

(ဂ) Myanmar SWM Motor Co., Ltd. အနေဖြင့် ထုတ်လုပ်မည့် မော်တော်ယာဉ်များအတွက် ဒေသတွင်း နိုင်ငံများ လိုက်ပါဆောင်ရွက်ရမည့် Designated Technical Service မှ လက်မှတ်ရေးထိုးအတည်ပြုထားသောစမ်းသပ်စစ်ဆေးမှုအစီရင်ခံစာ (Test Report) ပူးတွဲတင်ပြနိုင်ရေး ရည်မှန်းဆောင်ရွက်ရန် လိုအပ်မည်ဖြစ်ခြင်း၊

(ဃ) အသုံးပြုမည့် ကုန်ကြမ်းများ၊ တင်သွင်းမည့် စက်ပစ္စည်းများမှာ လုပ်ငန်းသဘာဝနှင့် ကိုက်ညီမှုရှိကြောင်း စိစစ်တွေ့ရှိရခြင်း၊

(င) ကနဦး လုပ်ငန်း တည်ထောင်မှုအရ SKD စနစ်ဖြင့် လုပ်ငန်းစတင်ဆောင်ရွက်ရန် တင်ပြထားသော်လည်း ရေရှည်တွင် နည်းပညာရရှိမှုနှင့် နိုင်ငံတကာအဆင့်မီ ပြည်ပသို့ တင်ပို့နိုင်သည်အထိ ရည်ရွယ်၍ အစီအမံများဖြင့် ချမှတ်ဆောင်ရွက်ရန် လိုအပ်မည်ဖြစ်ခြင်း၊

(စ) တင်သွင်းမည့် စက်ပစ္စည်းများ၊ ကုန်ကြမ်းပစ္စည်း အစိတ်အပိုင်းများအား ချမှတ်ဆောင်ရွက်လျက်ရှိသည့် SKD စနစ်နှင့်အညီလိုက်နာဆောင်ရွက်ရန်၊ ပြည်တွင်း၌ ထုတ်ပြန်ထားသည့် မော်တော်ယာဉ်လုပ်ငန်းဆိုင်ရာမူဝါဒအရ Euro 4 အဆင့် မျှော်မှန်းဆောင်ရွက်ရန်၊ Quality Control ပိုင်းတွင် ဘေးကင်းလုံခြုံမှုရှိစေရေး အလေးထားဆောင်ရွက်ရန်နှင့် မူရင်းကုမ္ပဏီ Design နှင့် သတ်မှတ်စံနှုန်းများအတိုင်း အာမခံပေးရန် လိုအပ်မည်ဖြစ်ခြင်း၊

၃။ သို့ဖြစ်ပါ၍ Myanmar SWM Motor Co., Ltd. မှ SKD စနစ်ဖြင့် မော်တော်ယာဉ်အမျိုးမျိုး တပ်ဆင် ထုတ်လုပ်ရောင်းချခြင်းနှင့် ပြုပြင်ထိန်းသိမ်းခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာမှုနှင့်စပ်လျဉ်း၍ နိုင်ငံအတွင်း လိုက်နာရန် သတ်မှတ်ဆောင်ရွက်ရမည့် မူဝါဒများနှင့် ကိုက်ညီရန် လိုအပ်မည်ဖြစ်ပြီး၊ မော်တော်ယာဉ်ဥပဒေ၊ မော်တော်ယာဉ်နည်းဥပဒေ၊ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေ၊ ပုဂ္ဂလိကစက်မှုလုပ်ငန်းဥပဒေ၊ တည်ဆဲဥပဒေလုပ်ထုံးလုပ်နည်းများနှင့်ညီညွတ်ပါက စီမံကိန်း၊ဘဏ္ဍာရေးနှင့်စက်မှုဝန်ကြီးဌာနအနေဖြင့် ကန့်ကွက်ရန် မရှိပါကြောင်း ပြန်ကြားအပ်ပါသည်။

ပြည်ထောင်စုဝန်ကြီး (ကိုယ်စား)
(ကိုကိုလွင်၊ အမြဲတမ်းအတွင်းဝန်)

မိတ္တူကို

စက်မှုကြီးကြပ်ရေးနှင့်စစ်ဆေးရေးဦးစီးဌာန
အမှတ်(၁)အကြီးစားစက်မှုလုပ်ငန်း
ရုံးလက်ခံ/ မျှောစာတွဲ

SWM MOTORS

# MYANMAR SWM MOTORS CO., LTD.

MYANMAR SWM MOTORS

No.3, Yadanarmon (7) Street, (3) Quater, Yadanarmon Housing, Hlaing Township, Yangon, Myanmar.
: 09 776111123, 09 775111123, 09 5064110

သို့

M.0122
3/2/2020

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

ရက်စွဲ၊ ၂၀၂၀ ခုနှစ် ဇန်နဝါရီလ ၃၁ ရက်

အကြောင်းအရာ။ **ပို့ဆောင်ရေးနှင့် ဆက်သွယ်ရေးဝန်ကြီးဌာန၏ သဘောထားမှတ်ချက်နှင့်အညီ လိုက်နာဆောင်ရွက်သွားမည် ဖြစ်ပါကြောင်းတင်ပြခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် ၏ ၂၉-၁-၂၀၂၀ ရက်စွဲပါစာအမှတ်၊ မရက-၃ / ခ-၀၆၃/၂၀၂၀ (၀၄၂)

၁။ အထက်အကြောင်းအရာပါကိစ္စနှင့်စပ်လျဉ်း၍ Myanmar SWM Motor Co., Ltd. မှ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ မော်တော်ယာဉ်အမျိုးမျိုး တပ်ဆင်ထုတ်လုပ်ခြင်း ရောင်းချခြင်းနှင့် ရောင်းချပြီးနောက် ပြုပြင်ထိန်းသိမ်းခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ အဆိုပြုချက် တင်ပြခဲ့ခြင်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ရည်ညွှန်းချက်ပါစာဖြင့် ပို့ဆောင်ရေးနှင့် ဆက်သွယ်ရေး ဝန်ကြီးဌာန၏ လမ်းညွှန်ချက်နှင့်အညီ လိုက်နာဆောင်ရွက်ရန် ပြန်ကြားလာပါသည်။

၂။ သို့ဖြစ်ပါ၍ Myanmar SWM Motor Co., Ltd. အနေဖြင့် ရည်ညွှန်းချက်ပါ သဘောထားမှတ်ချက်နှင့်အညီ လိုက်နာဆောင်ရွက်သွားမည်ဖြစ်ပါကြောင်း တင်ပြအပ်ပါသည်။

လေးစားစွာဖြင့်

Myanmar SWM Motor Company Limited.
No.........
Date.........

U Naing Tun
Managing Director
Myanmar SWM Motor Company Limited

SWM
SWM MOTORS

# MYANMAR SWM MOTORS CO., LTD.

SWM
MYANMAR SWM MOTORS

No.3, Yadanarmon (7) Street, (3) Quater, Yadanarmon Housing, Hlaing Township, Yangon, Myanmar.
: 09 776111123, 09 775111123, 09 5064110

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

ရက်စွဲ၊ ၂၀၂၀ ခုနှစ် ဇန်နဝါရီလ ၃၁ ရက်

အကြောင်းအရာ။ **စီမံကိန်း၊ ဘဏ္ဍာရေးနှင့် စက်မှုဝန်ကြီးဌာန၏ သဘောထားမှတ်ချက်နှင့်အညီ လိုက်နာဆောင်ရွက်သွားမည် ဖြစ်ပါကြောင်းတင်ပြခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် ၏ ၂၉-၁-၂၀၂၀ ရက်စွဲပါစာအမှတ်၊ မရက-၃ / ခ-၀၆၃/၂၀၂၀ (၀၄၂)

၁။ အထက်အကြောင်းအရာပါကိစ္စနှင့်စပ်လျဉ်း၍ Myanmar SWM Motor Co., Ltd. မှ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ မော်တော်ယာဉ်အမျိုးမျိုး တပ်ဆင်ထုတ်လုပ်ခြင်း ရောင်းချခြင်းနှင့် ရောင်းချပြီးနောက် ပြုပြင်ထိန်းသိမ်းခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ အဆိုပြုချက် တင်ပြခဲ့ခြင်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ရည်ညွှန်းချက်ပါစာဖြင့် စီမံကိန်း၊ ဘဏ္ဍာရေးနှင့်စက်မှုဝန်ကြီးဌာန၏ လမ်းညွှန်ချက်နှင့်အညီ လိုက်နာဆောင်ရွက်ရန် ပြန်ကြားလာပါသည်။

၂။ သို့ဖြစ်ပါ၍ Myanmar SWM Motor Co., Ltd. အနေဖြင့် ရည်ညွှန်းချက်ပါ သဘောထားမှတ်ချက်နှင့်အညီ လိုက်နာဆောင်ရွက်သွားမည်ဖြစ်ပါကြောင်း တင်ပြအပ်ပါသည်။

လေးစားစွာဖြင့်

Myanmar SWM Motor Company Limited.
No.........
Date.........

U Naing Tun
Managing Director
Myanmar SWM Motor Company Limited.

SWM MOTORS

# MYANMAR SWM MOTORS CO., LTD.

MYANMAR SWM MOTORS

No.3, Yadanarmon (7) Street, (3) Quater, Yadanarmon Housing, Hlaing Township, Yangon, Myanmar.
: 09 776111123, 09 775111123, 09 5064110

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

ရက်စွဲ၊ ၂၀၂၀ ခုနှစ် ဇန်နဝါရီလ ၃၁ ရက်

အကြောင်းအရာ။ **သယံဇာတနှင့် သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေး ဝန်ကြီးဌာန၏ သဘောထားမှတ်ချက်နှင့်အညီ လိုက်နာဆောင်ရွက်သွားမည် ဖြစ်ပါကြောင်း တင်ပြခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ အဆိုပြုချက် စိစစ်ရေးအဖွဲ့၏ ၁၇-၁-၂၀၂၀ ရက်စွဲပါစာအမှတ် မရက-၃/ခ-၀၆၃/၂၀၂၀ (၀၃၀)

၁။ အထက်အကြောင်းအရာပါကိစ္စနှင့်စပ်လျဉ်း၍ Myanmar SWM Motor Co., Ltd. မှ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ မော်တော်ယာဉ်အမျိုးမျိုး တပ်ဆင်ထုတ်လုပ်ခြင်း ရောင်းချခြင်းနှင့် ရောင်းချပြီးနောက် ပြုပြင်ထိန်းသိမ်းခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုချက် တင်ပြခဲ့ခြင်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ရည်ညွှန်းချက်ပါစာဖြင့် သယံဇာတနှင့်သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေး ဝန်ကြီးဌာန၏ သဘောထားမှတ်ချက်နှင့်အညီ လိုက်နာဆောင်ရွက်ရန် ပြန်ကြားလာပါသည်။

၂။ သို့ဖြစ်ပါ၍ Myanmar SWM Motor Co., Ltd. အနေဖြင့် ရည်ညွှန်းချက်ပါ သဘောထားမှတ်ချက်နှင့်အညီ လိုက်နာဆောင်ရွက်သွားမည်ဖြစ်ပါကြောင်း တင်ပြအပ်ပါသည်။

လေးစားစွာဖြင့်

Myanmar SWM Motor Company Limited.
No..........
Date.........

U Naing Tun
Managing Director
Myanmar SWM Motor Company Limited.

